သော စာချုပ်တစ်ခုတည်းကိုသာ ရည်ညွှန်းဖော်ပြရမည်ဖြစ်ပါကြောင်း အကြံပြုပြန်ကြားအပ်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၁ (မူလအပိုဒ် ၄) ၌ အစားထိုးပြင်ဆင်မည့် စားသားတွင် "မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေတို့နှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရန် ရည်ရွယ်ပါသည်" ဟု ဖော်ပြထားပါသည်။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၆(စ) ၌ "နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားကုမ္ပဏီတစ်ခုခုနှင့် ဖက်စပ်လုပ်ငန်းတည်ထောင်လုပ်ကိုင်လိုပါက နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ရှိကြောင်း" ပြဋ္ဌာန်းထားပါသည်။ သို့ပါ၍ ဌာနပိုင်မြေကိုငှား၍ လုပ်ငန်းများကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်စဉ် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားကုမ္ပဏီတစ်ခုခုနှင့် ဖက်စပ်လုပ်ငန်း တည်ထောင်လုပ်ကိုင်မည်ဆိုပါက အဆိုပါဥပဒေပုဒ်မ ၁၆(စ)အရ ဆောင်ရွက်ခွင့်ရှိသဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအား ထည့်သွင်းဖော်ပြရန် မလိုအပ်ပါ။ ထိုသို့ ထည့်သွင်းဖော်ပြရန် မလိုအပ်သဖြင့် အဆိုပါအပိုဒ် ၁၊ ရည်ရွယ်ချက် ၁-၂ ပါစာသားကိုလည်း အစားထိုးပြင်ဆင်ရန် လိုအပ်မည်မဟုတ်ပါ။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၂ (မူလအပိုဒ် ၅) ၌ ဖော်ပြထားသော "အပိုဒ် (၉) အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ၊ ၉-၁(၄)" ပါ စာသားအားပြင်ဆင်အစားထိုးမည့်စာသားသည် ပြည့်စုံခြင်းမရှိသဖြင့် စိစစ်နိုင်ခြင်းမရှိပါ။ ပြန်လည်စိစစ်ပြီး ပြည့်စုံစွာဖော်ပြရန်လိုအပ်ပါသည်။ ထို့အပြင် ဌာနအနေဖြင့် ယင်းအစားထိုးပြင်ဆင်မည့်စာသားနှင့်စပ်လျဉ်း၍ တာဝန်ယူစိစစ်ရန်ဖြစ်ပါသည်၊

(ဓ) စာချုပ်(မူကြမ်း)၌ "ဤပြင်ဆင်ချက်သဘောတူစာချုပ်၌ အစားထိုးပြင်ဆင်သည့် စည်းကမ်းချက်များမှလွဲ၍ BOT စနစ်ဖြင့် မြေငှားရမ်းခြင်းသဘောတူစာချုပ်ပါ ကျန်စည်းကမ်းချက်များသည် ပြောင်းလဲခြင်းမရှိဘဲ ဆက်လက်တည်ရှိ၊ အကျိုးသက်ရောက်စေရမည်" ဆိုသောစည်းကမ်းချက်မပါရှိ၍ မင်နီဖြင့် ဖြည့်စွက်ပေးလိုက်ပါသည်၊

(ဈ) ထို့အပြင် စာချုပ်(မူကြမ်း)၌ "ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် မည်သည့်နေ့ရက်မှစ၍ စတင်အကျိုးသက်ရောက်စေရမည်" ဆိုသောအချက်မပါရှိ၍ ဖော်ပြရန်လိုအပ်ပါသည်၊

(ည) ယခုစာချုပ်(မူကြမ်း)နှင့်စပ်လျဉ်း၍ ၂၀-၁၂-၂၀၁၂ ရက်စွဲပါစာချုပ်၏ အပိုဒ် ၁၈-၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရှိရန် လိုအပ်ပါသည်၊

(ဋ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၇။ ရည်ညွှန်းချက်(၅)ပါစာနှင့်အတူ ပေးပို့လာသော မြေ(၂.၀၄)ဧကအတွက် ချုပ်ဆိုမည့် BOT စနစ်ဖြင့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)အား လေ့လာရာတွင် ဌာနနှင့် General Food Technology Industry Co., Ltd တို့အကြား မြေ(၂.၀၄)ဧကအတွက် ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည် -

(က) ယခုစာချုပ်(မူကြမ်း)သည် ၂၀-၁၂-၂၀၁၂ ရက်နေ့က ချုပ်ဆိုခဲ့သော BOT စနစ်ဖြင့် မြေငှားရမ်းခြင်းသဘောတူစာချုပ်ပါ မြေ(၃.၅၆)ဧကအနက် မြေ(၂.၀၄)ဧကအား ယခင်ချုပ်ဆိုခဲ့သော စာချုပ်ဝင်ဖြစ်သည့် General Food Technology Industry Co., Ltd နှင့်ချုပ်ဆိုမည်ဖြစ်၍ မူလစာချုပ်ကြီးတစ်ရပ်ကဲ့သို့ ချုပ်ဆိုရန်လိုအပ်မည်မဟုတ်ပါကြောင်း ဦးစွာအကြံပြုပြန်ကြားအပ်ပါသည်၊

(ခ) ၂၀-၁၂-၂၀၁၂ ရက်နေ့က ချုပ်ဆိုခဲ့သော မြေ(၃.၅၆)ဧကေ ဖော်ပြချက်နှင့် စပ်လျဉ်း၍ မြေ(၃.၅၆)ဧကအစား (၂.၀၄)ဧကအဖြစ် အစားထိုးပြင်ဆင်မည့် စည်းကမ်းချက်နှင့် ထပ်မံပြင်ဆင်၊ အစားထိုးလိုသည့် စည်းကမ်းချက်တို့ကို ဖော်ပြလျက် ၂၀-၁၂-၂၀၁၂ ရက်နေ့က ချုပ်ဆိုခဲ့သော စာချုပ်ကိုသာ ပြင်ဆင်သည့်ပြင်ဆင်ချက်စာချုပ်ချုပ်ဆိုရန် လိုအပ်မည်ဖြစ်ပါသည်၊

(ဂ) သို့ပါ၍ ၂၀-၁၂-၂၀၁၂ ရက်နေ့က ချုပ်ဆိုခဲ့သော စာချုပ်၌မြေဧကအား ပြင်ဆင်သည့် စည်းကမ်းချက်အချက်အပါအဝင် ထပ်မံ၍ ပြင်ဆင်၊ ဖြည့်စွက်လိုသောစည်းကမ်းချက်များကို ယခုစာချုပ်(မူကြမ်း)နှင့်အတူ ပူးတွဲပေးပို့လာသော ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)၌ ထည့်သွင်းဖော်ပြပါက ပိုမိုသင့်လျော်မည်ဖြစ်ပါကြောင်း အကြံပြုပြန်ကြားအပ်ပါသည်၊

၈။ ရည်ညွှန်းချက်(၅)ပါစာနှင့်အတူ မြေ(၁.၅၂)ဧကအတွက် ငါးလုပ်ငန်းဦးစီးဌာနနှင့် Golden Bay Co., Ltd တို့ ချုပ်ဆိုမည့် BOT စနစ်ဖြင့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)အား အင်္ဂလိပ်+မြန်မာနှစ်ဘာသာဖြင့် ပြုစုပေးပို့လာရာ ရည်ညွှန်းချက်(၁)ပါစာ၌ Golden Bay Co., Ltd သည် ဖက်စပ်ကုမ္ပဏီဟုလည်းကောင်း၊ ရည်ညွှန်းချက်(၅)ပါစာ၌ Golden Bay Co., Ltd အမည်ဖြင့် ဖက်စပ်လုပ်ငန်းဆောင်ရွက်ရန်ဟုလည်းကောင်း ဖော်ပြထားသဖြင့် အင်္ဂလိပ်ဘာသာဖြင့် ပြုစုထားသော စာချုပ်(မူကြမ်း)အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုပြန်ကြားအပ်ပါသည် -

(က) စာချုပ်(မူကြမ်း) စာချုပ်ဝင်စာပိုဒ်တွင် Golden Bay Co., Ltd သည် မည်သည့်ကုမ္ပဏီနှင့် ပူးပေါင်းဖွဲ့စည်းထားသော ဖက်စပ်ကုမ္ပဏီဖြစ်ကြောင်း ဖော်ပြသင့်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) Article 5 Term of the Agreement ၊ အပိုဒ်ခွဲ 5.2 ၌ နောက်ထပ်(၅)နှစ်သက်တမ်း(၂)ကြိမ်အတွက် စာချုပ်ချုပ်၍ ထပ်မံငှားရမ်းခွင့်ရှိစေရမည်ဟု ဖော်ပြထားပါသည်။ ယင်းသို့ဖော်ပြမည့်အစား "ယခုစာချုပ်

၏သက်တမ်းအား ၅ နှစ်(၂)ကြိမ် သက်တမ်းတိုးမြှင့်နိုင်သည်" ဟုဖော်ပြသင့်သဖြင့် မင်နီဖြင့်ရေးသားပေးလိုက်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) Article 6 ၌ Extension of the Term of the Agreement ဟုဖော်ပြထားပြီး ယင်းခေါင်းစဉ်အောက်ရှိ အပိုဒ်ခွဲ 6.1 နှင့် 6.2 တို့၌ ငှားရမ်းကာလတိုးမြှင့်ခြင်းနှင့်စပ်လျဉ်း၍ ဖော်ပြထားရာ ခေါင်းစဉ်နှင့်အပိုဒ်ခွဲဖော်ပြချက်တို့မှာ ကိုက်ညီမှုမရှိသောကြောင့် ပြန်လည်စိစစ်ရန်ဖြစ်ပါသည်။ စာချုပ်သက်တမ်း (Term of Agreement) နှင့် ငှားရမ်းကာလ (Lease Period) တို့မှာ တူညီခြင်းမရှိသလို စာချုပ်သက်တမ်းတိုးမြှင့်ခြင်း (Extension of the Term of Agreement) နှင့် ငှားရမ်းကာလတိုးမြှင့်ခြင်း (Extension of Lease Period)တို့မှာ တူညီခြင်းမရှိပါ။ စာချုပ်တစ်ခုတွင် စာချုပ်သက်တမ်းနှင့် စာချုပ်သက်တမ်းတိုးမြှင့်ခြင်းတို့သည် အရေးကြီးသော ဥပဒေရေးရာစည်းကမ်းချက်ဖြစ်၍ ပြန်လည်စိစစ်ပြီး ဖော်ပြရန်လိုအပ်ပါသည်။ ထို့အတူ ငှားရမ်းကာလနှင့် ငှားရမ်းကာလတိုးမြှင့်ခြင်းတို့ကိုလည်း ဖော်ပြရန် လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) Article 6 ၊ အပိုဒ်ခွဲ 6.2 ၌ ဖော်ပြထားသော "In case of wishing to extend the term" သည် ငှားရမ်းကာလ သို့မဟုတ် စာချုပ်သက်တမ်းအနက် မည်သည်ကိုဆိုလိုကြောင်း ရှင်းလင်းမှုမရှိပါ။ ရှင်းလင်းစွာဖော်ပြရန်လိုအပ်ပါသည်။ ထို့အပြင် Lessee သည် သက်တမ်းတိုးမြှင့်ခြင်းအား မည်သူ့ထံတင်ပြရမည်ဖြစ်ကြောင်း ဖော်ပြမထား၍ ဖော်ပြရန်လိုအပ်ပါသည်၊

(င) စာချုပ်(မူကြမ်း) Article 7 ၌ ယခုစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိသည့်နေ့မှစ၍ အကျိုးသက်ရောက်ရမည်ဟု ဖော်ပြထားပါသည်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်

ရရှိပြီး နှစ်ဖက်စာချုပ်ဝင်များ လက်မှတ်ရေးထိုးသည့်နေ့တွင် စတင်အကျိုးသက်ရောက်စေရမည်ဟု ဖော်ပြရန်သင့် မသင့် စဉ်းစားသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) Article 8 Rental Payment ၊ အပိုဒ်ခွဲ 8.1 ၌ ဖော်ပြထားချက်မှာ ရှင်းလင်းမှုမရှိပါ။ မြေ(၁.၅၂)ဧကအတွက် တစ်နှစ်စာငှားရမ်းခမှာ မည်မျှဖြစ်ကြောင်း၊ ယခုနှစ်အတွက် ငှားရမ်းခကို ယခုစာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ (၇)ရက်အတွင်း ပေးချေရမည်ဖြစ်ကြောင်း၊ ကျန်နှစ်များအတွက် တစ်နှစ်စာငှားရမ်းခကို ပြက္ခဒိန်နှစ်အလိုက် သို့မဟုတ် ဘဏ္ဍာရေးနှစ်အလိုက် မည်သို့ပေးချေမည်ဖြစ်ကြောင်း စသည်ဖြင့် အပိုဒ်များခွဲ၍ ရှင်းလင်းစွာဖော်ပြရန် လိုအပ်ပါသည်။ ထို့အပြင် အဆိုပါအပိုဒ်ခွဲ၌ "Beginning the second year" ဟုဖော်ပြထားရာ 'ဒုတိယနှစ်အစတွင်' ဟုသဘောသက်ရောက်နေပြီး ကျန်နှစ်များအတွက် မည်သို့ပေးချေမည်ဖြစ်ကြောင်း မပေါ်ပေါက်၍ ပြန်လည်စိစစ်ပြီး ရှင်းလင်းစွာဖော်ပြရန် လိုအပ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) Article 8 ၊ အပိုဒ်ခွဲ 8.2 ၌ နှစ်စဉ်ငှားရမ်းခအား သတ်မှတ်သည့် (၇)ရက်ထက် ကျော်လွန်ပါက နောက်ကျဒဏ်ကြေးပေးရမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ သတ်မှတ်ကာလအတွင်း ပေးသွင်းရန်ပျက်ကွက်ပါကဟု မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။ ဌာန၏လိုအပ်ချက်နှင့် ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) Article 9 The responsibilities of the Lessor ၊ အပိုဒ်ခွဲ 9.1(5) ၌ "---------- proper of the building of the Leased Land."ဟု ဖော်ပြထားရာ ငှားရမ်းရာတွင် မြေအပြင်အဆောက်အဦပါ ပါဝင်သည့်သဘော သက်ရောက်နေပါသည်။ အဆောက်အဦပါ ဝင်ပါက စာချုပ်(မူကြမ်း)၌ မြေနှင့် အဆောက်အဦများအား BOT စနစ်ဖြင့် ငှားရမ်းခြင်းဟု ဖော်ပြသင့်ပါသည်။

ထို့အပြင် မည်ကဲ့သို့အဆောက်အဦဖြစ်ကြောင်း၊ အဆောက်အဦမည်မျှဖြစ်ကြောင်း စည်းကမ်းချက်တစ်ရပ်အနေဖြင့် ဖော်ပြသင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)၌ ငှားရမ်းမည့်မြေနှင့်အဆောက်အဦများ၏ တည်နေရာ၊ လိပ်စာအပြည့်အစုံ၊ ဧရိယာနှင့် အဆောက်အဦများစာရင်းကို Lease of Properties ဟူ၍ သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြသင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း) term of Lease ဟုလည်းကောင်း၊ Leased Period ဟုလည်းကောင်း အမျိုးမျိုးသုံးနှုန်းထားရာ ငှားရမ်းကာလနှင့်စပ်လျဉ်း၍ အသုံးအနှုန်းအား တစ်ညီတစ်ညွတ်တည်းသုံးနှုန်းဖော်ပြသင့်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) Article 10 The responsibilities of the Lessee ၊ အပိုဒ်ခွဲ 10.1(4) ၌ Lessee သည် စက်ပစ္စည်းကိရိယာများကို အစားထိုးရန် တာဝန်ရှိကြောင်း ဖော်ပြထားပါသည်။ ငှားရမ်းရာတွင် မြေအပြင် စက်ပစ္စည်းကိရိယာများ၊ စက်ရုံစသည်တို့ပါဝင်ပါက စာချုပ်(မူကြမ်း)၌ ငှားရမ်းမည့်ပစ္စည်းများ ခေါင်းစဉ်အောက်တွင် ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်။ ထိုသို့စက်ပစ္စည်းများကို အစားထိုးမည်ဆိုပါက Lessor (ဌာန)၏ စာဖြင့်ခွင့်ပြုချက်ရရှိမှသာ ဆောင်ရွက်ရမည်ဟု ဖော်ပြသင့်ပါသည်။ ဌာန၏လိုအပ်ချက်နှင့်ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း) Article 12 ၌ Restitution ဟု သုံးနှုန်းဖော်ပြထားရာ Restitution အစား ဥပဒေရေးရာအသုံးအနှုန်းဖြစ်သော Retransfer of the Land and Building ဟုမင်နီဖြင့် ပြင်ပေးလိုက်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) Article 9 The responsibiltites of the Lessor ၌ Lessor (ဌာန)မှ ကူညီဆောင်ရွက်ပေးရမည့်ကိစ္စရပ်များတွင် အခြားဝန်ကြီးဌာနများနှင့်သက်ဆိုင်သော ကိစ္စရပ်များပါဝင်နေသဖြင့် သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ညှိနှိုင်းဆောင်ရွက်သင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 9.1(4) ၌ Lessor သည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ကင်းလွတ်ခွင့်များရရှိအောင် ကူညီဆောင်ရွက်ပေးမည်ဖြစ်ကြောင်း ဖော်ပြထားရာ အခွန်ကင်းလွတ်ခွင့်နှင့်စပ်လျဉ်း၍ ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရန်ဖြစ်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း) Article 13 Exemption and Relief နှင့်စပ်လျဉ်း၍ ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရန်လိုအပ်ပါသည်၊

(တ) စာချုပ်(မူကြမ်း) Article 15 Termination of the Agreement ၊ အပိုဒ်ခွဲ 15.1 ၌ အောက်ဖော်ပြပါအခြေအနေတစ်ရပ်ဖြစ်ပွားပါက စာချုပ်ဝင်များသည် စာချုပ်ကိုရပ်စဲနိုင်သည်ဟု ဖော်ပြထားပါသည်။ သို့သော် အပိုဒ်ခွဲ 15.1(5)၌ စာချုပ်ဝင်အသီးသီးမှ စာချုပ်ရပ်စဲခြင်းဖြစ်ပေါ်သည့်အခါ တစ်ဖက်စာချုပ်ဝင်သို့ နို့တစ်(၆)ရက်ပေးပို့ပြီးနောက် စာချုပ်ရပ်စဲနိုင်သည်ဟု ဖော်ပြထားရာ ရှင်းလင်းမှုမရှိသည့်အပြင် တစ်ဖက်သတ်ရပ်စဲနိုင်သည့်သဘောသက်နေပါသည်။ ထို့အပြင် အပိုဒ်ခွဲ 15.1 နှင့် 15.1(5) ဖော်ပြချက်တို့မှာ ကိုက်ညီခြင်းမရှိသဖြင့် ဌာနမှ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(ထ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 15.1(6) ၌ "---------- issued by the ministy, --------- issued by the governement" ဟုဖော်ပြထားရာ ministy သည် မည်သည့်ဝန်ကြီးဌာနကိုဆိုလိုကြောင်းနှင့် government သည် မည်သည့်အစိုးရ(ပြည်ထောင်စုအစိုးရ/ ပြည်နယ်အစိုးရ/ တိုင်းဒေသကြီးအစိုးရ) ကိုဆိုလိုကြောင်း ရှင်းလင်းမှုမရှိပါ ။ ရှင်းလင်းစွာဖော်ပြရန် လိုအပ်ပါသည်။ ထို့အပြင် အဆိုပါအပိုဒ်ခွဲ 15.1(6)သည် စာချုပ်ပျက်ပြယ်မည့် စည်းကမ်းချက်များကို ဖော်ပြထားရာ စာချုပ်ပျက်ပြယ်ခြင်းနှင့် စာချုပ်ရပ်စဲခြင်းတို့မှာ မတူညီသဖြင့်လည်းကောင်း၊ စာပိုဒ်ခေါင်းစဉ်နှင့်ကိုက်ညီမှုမရှိသဖြင့်လည်းကောင်း အဆိုပါအပိုဒ်ခွဲ 15.1(6) အား ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(ဒ) စာချုပ်(မူကြမ်း) Article 16 Right of re-entry of the Land ၊ အပိုဒ်ခွဲ 16.1 ၌ ရေးသားဖော်ပြချက်မှာ ရှင်းလင်းမှုမရှိသဖြင့် အလားတူစာချုပ်များတွင် ဖော်ပြလေ့ရှိသောစာပိုဒ်အား Slip ကပ်ပေးလိုက်ပါသည်၊

(ဓ) စာချုပ်(မူကြမ်း) Article 17 Force Majeure ၊ အပိုဒ်ခွဲ 17.1 ၌ ရေးသားဖော်ပြချက်မှာ အရေးအသားပြေပြစ်မှုမရှိသဖြင့် အလားတူစာချုပ်များတွင် ဖော်ပြလေ့ရှိသာစာပိုဒ်အား Slip ကပ်ပေးလိုက်ပါသည်။ ဌာန၏လိုအပ်ချက်နှင့်ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(န) စာချုပ်(မူကြမ်း) Article 18 Dissolve Resolution ၌ ရေးသားဖော်ပြချက်သည် ဥပဒေရေးရာအသုံးအနှုန်းပြေပြစ်မှုမရှိသဖြင့် အလားတူစာချုပ်များတွင် ဖော်ပြလေ့ရှိသော စာပိုဒ်အား Slip ကပ်ပေးလိုက်ပါသည်။ စာပိုဒ်၏ခေါင်းစဉ်အား Settlement of Disputes ဟုမင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်၊

(ပ) စာချုပ်(မူကြမ်း) Article 20 Confidentiality ၊ အပိုဒ်ခွဲ 20.1 ၌ အရေးကြီးသောစာရွက်စာတမ်းများ၊ သတင်းအချက်အလက်များကို ကုမ္ပဏီ၏ အကျိုးစီးပွားအတွက် ဒါရိုက်တာအဖွဲ့၏ ဆုံးဖြတ်ချက်ဖြင့် အခြားအဖွဲ့အစည်းလွှဲပြောင်းခွင့်ရှိကြောင်း ဖော်ပြထားရာ Lessor (ဌာန)၏ သဘောတူခွင့်ပြုချက်ရရှိမှသာလျှင် လွှဲပြောင်းခွင့်ရှိသည်ဟု ဖော်ပြရန်သင့် မသင့် ဌာနအနေဖြင့် စဉ်းစားသင့်ပါသည်၊

(ဖ) စာချုပ်(မူကြမ်း) Article 22 Notice ၌ နို့တစ် သို့မဟုတ် အခြားဆက်သွယ်ခြင်းတို့ကို မြန်မာဘာသာ သို့မဟုတ် အင်္ဂလိပ်ဘာသာဖြင့် ရေးသားမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ သို့သော် စာချုပ်(မူကြမ်း)၌ ယခုစာချုပ်(မူကြမ်း)အား မည်သည့်ဘာသာဖြင့် ရေးသားချုပ်ဆိုမည်ဖြစ်ကြောင်း ဖော်ပြမထား၍ ဖော်ပြရန်လိုအပ်ပါသည်။ ယခုစာချုပ်(မူကြမ်း)အား အင်္ဂလိပ်+

မြန်မာနှစ်ဘာသာဖြင့် ရေးသားပြုစုမည်ဆိုပါက မည်သည့်ဘာသာက လွှမ်းမိုးသည်ဆိုသောအချက်အား ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ဗ) ယခုစာချုပ်(မူကြမ်း)၌ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်းများဆောင်ရွက်ရန်ဟု ဖော်ပြထားသော်လည်း လွှမ်းမိုးသည့်ဥပဒေ (Governing Law) စာပိုဒ်မပါရှိ၍ မင်နီဖြင့် ရေးသားပေးလိုက်ပါသည်။ ထို့အတူ Law of Performance စာပိုဒ်မပါရှိ၍ မင်နီဖြင့် ရေးသားပေးလိုက်ပါသည်၊

(ဘ) စာချုပ်(မူကြမ်း)၌ ဌာနအနေဖြင့် Land Use Permium (မြေအသုံးပြုမှုပရီမီယံကြေး)ရယူထားခြင်းမရှိကြောင်း တွေ့ရှိပါသည်။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၁၈ ၌ "အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းပိုင် မြေများကိုငှားရမ်းရာတွင် မြေအသုံးပြုမှုပရီမီယံကြေးကို သက်ဆိုင်ရာအစိုးရဌာန၊ အစိုးရအဖွဲ့အစည်းက ရင်းနှီးမြှုပ်နှံသူထံမှ တောင်းခံနိုင်သည်" ဟုပြဋ္ဌာန်းထားကြောင်း သိရှိနိုင်ရန်အတွက် ဖော်ပြအပ်ပါသည်၊

(မ) စာချုပ်(မူကြမ်း)၌ ဥပဒေရေးရာစည်းကမ်းချက်တစ်ခုဖြစ်သော Renegotiation စာပိုဒ်မပါရှိ၍ အလားတူစာချုပ်များတွင် ဖော်ပြလေ့ရှိသောစာပိုဒ်အား Slip ကပ်ပေးလိုက်ပါသည်၊

(ယ) စာချုပ်(မူကြမ်း)၌ BOT စာချုပ်များတွင် ဖော်ပြလေ့ရှိသော လုပ်ငန်းဆောင်ရွက်မှုအာမခံ (Performance Bank Guarantee) ရယူထားခြင်းမရှိ၍ ရယူရန်သင့် မသင့် ဌာနအနေဖြင့်စဉ်းစားသင့်ပါသည်၊

(ရ) စာချုပ်(မူကြမ်း)၌ Lessee သည် Lessor ၏စာဖြင့် သဘောတူခွင့်ပြုချက်မရရှိဘဲစာချုပ်ပါလုပ်ငန်းအားလုံးကိုလည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုလည်းကောင်း အခြားသူ သို့မဟုတ် အခြားအဖွဲ့အစည်း/ ကုမ္ပဏီသို့ လွှဲပြောင်းခြင်းမပြုရဆိုသောအချက်အား ထည့်သွင်းဖော်ပြရန်သင့် မသင့်စဉ်းစားသင့်ပါ သည်၊

(လ) စာချုပ်(မူကြမ်း)၌ ရင်းနှီးမြှုပ်နှံမှုပမာဏမပါရှိ၍ Lessee အနေဖြင့် မည်မျှ ရင်းနှီးမြှုပ်နှံမည်ဖြစ်ကြောင်း ဖော်ပြသင့်ပါသည်၊

(ဝ) စာချုပ်(မူကြမ်း)၌ ငှားရမ်းမည့်မြေ၏ မြေပုံအား နောက်ဆက်တွဲဖြင့် ဖော်ပြသင့်ပါသည်။ အဆိုပါမြေပုံသည် သက်ဆိုင်ရာဌာနက တရားဝင်ရေးဆွဲထားသော မြေပုံဖြစ်ရန် လိုအပ်ပါသည်၊

(သ) စာချုပ်(မူကြမ်း)၌ ရေးသားဖော်ပြချက်များသည် ဥပဒေရေးရာအသုံးအနှုန်းများ မဟုတ်သည့်အပြင် အရေးအသားပြေပြစ်မှုမရှိသဖြင့် ဥပဒေရေးရာအသုံးအနှုန်းနှင့် အရေးအသားပြေပြစ်မှုရှိစေရေးအတွက် ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(ဟ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၉။ အထက်ဖော်ပြပါ စာချုပ်(မူကြမ်း)ပါ ဆောင်ရွက်မည့်လုပ်ငန်းနှင့် စပ်လျဉ်း၍ ၁၄-၈-၂၀၁၄ ရက်စွဲဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ထုတ်ပြန်သောအမိန့်ကြော်ငြာစာအမှတ်- ၄၉/၂၀၁၄ စီးပွားရေး လုပ်ငန်းအမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်း၌ အပိုဒ်(က)တွင် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ဖြင့် နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများစာရင်းကို ဖော်ပြထားပါသည်။ အဆိုပါအပိုဒ် (က)၏ အမှတ်စဉ် ၁ မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ရယူဆောင် ရွက်ရမည့် လုပ်ငန်းများ၊ စဉ် ၆ တွင် "ရေထွက်ပစ္စည်းပြုပြင်ထုတ်လုပ်သည့်လုပ်ငန်း" အားဖော်ပြထား သည်ကို သိရှိနိုင်ရန်အတွက် ဖော်ပြအပ်ပါသည်။

၁၀။ ဤစာချုပ်(မူကြမ်း)များကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်း အရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ် များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၁၁။ Golden Bay Co., Ltd သည် ဥပဒေနှင့်အညီ တရားဝင်ဖွဲ့စည်းထားသည့် ကုမ္ပဏီ ဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အား

ပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည်တို့အတွက် သက်ဆိုင်ရာစာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

၁၂။ ဤစာချုပ်(မူကြမ်း)များကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန် အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်စီပေးပို့ရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၃။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

( ကျော်ဆန်း )

ညွှန်ကြားရေးမှူးချုပ်(တာဝန်)

ညွှန်ကြားရေးမှူးချုပ်

ငါးလုပ်ငန်းဦးစီးဌာန

မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ

ဌာန - ငါးလုပ်ငန်းဦးစီးဌာန
လိပ်စာ - မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၊နေပြည်တော်

ဌာန - General Food Technology
လိပ်စာ - အမှတ်(၂/၂)ရပ်ကွက်၊ဘုရင့်နောင်အနောက်ကြို့ကုန်း၊ အင်းစိန်မြို့နယ်

## အသိသက်သေများ

၁။ အမည် - .....................
နိုင်ငံသားအမှတ် - .....................
ရာထူး - .....................
နေရပ်လိပ်စာ - .....................

၂။ အမည် - .....................
နိုင်ငံသားအမှတ် - Yin Myat Thu
Director
ရာထူး General Food Technology Industry Co., Ltd.
နေရပ်လိပ်စာ - .....................




## "*B.O.T* စနစ်ဖြင့် မြေငှားရမ်းခြင်းသဘောတူကတိစာချုပ်"

ဤသဘောတူကတိစာချုပ်နှင့်အတူ ပူးတွဲဖော်ပြထားသော နောက်ဆက်တွဲများအားလုံးကို ဤစာချုပ်၏ အရေးကြီးသော အစိတ်အပိုင်းအဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်ဖြစ်ပြီး (နောင်တွင် "*B.O.T* စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူကတိစာချုပ်" ဟု ခေါ်တွင်စေရမည်) ဖြစ်သည်။ ဤသဘောတူကတိစာချုပ်ကို ၂၀၁၂ခုနှစ်၊ ---------ဒီဇင်ဘာ---------လ၊ (၂၀)ရက်နေ့တွင် ရန်ကုန်မြို့၌ အောက်ပါအတိုင်းပြုလုပ်ချုပ်ဆိုကြသည်မှာ-

ငါးလုပ်ငန်းဦးစီးဌာန၊ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန ရန်ကုန်တိုင်းဒေသကြီး၊အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်း၊ ဘုရင့်နောင်လမ်းမကြီးနှင့် ဘုရင့်နောင်ရိပ်သာလမ်းထောင့်တွင် တည်ရှိသည် (နောင်တွင် "အငှားချထားသူ"ဟု ခေါ်တွင် စေပြီးယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပာယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက ၎င်း၏ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ၊ လုပ်ငန်းဆက်ခံခွင့်ရှိသူများနှင့် တရားဝင်ကိုယ်စားလှယ်များပါ ပါဝင်သည်ဟု မှတ်ယူရမည်။) ဤသဘောတူကတိစာချုပ်ပါ ရည်ရွယ်ချက်များ ထမြောက်အောင်မြင်စေရန်အလို့ငှာ ကိုယ်စားပြုတာဝန်ယူ ဆောင်ရွက်ရမည့်သူ ဦးဇော်မျိုးထွန်း၊ ညွှန်ကြားရေးမှူးက တစ်ဖက်၊

နှင့်

***General Food Techuclogy Industry Co.Ltd.*** မြန်မာနိုင်ငံကုမ္ပဏီများ အပ်ဥပဒေအရ တရားဝင်မှတ်ပုံတင် ဖွဲ့စည်းတည်ထောင်ထားသည့် အများနှင့်မသက်ဆိုင်သော မြန်မာကုမ္ပဏီဖြစ်ပြီး၊ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်း၊ ဘုရင့်နောင်လမ်းမကြီး၊ ငါးလုပ်ငန်းဦးစီးဌာန ဝန်းအတွင်း တည်ရှိသည် (နောင်တွင် "အငှားချထားခြင်းခံရသူ" ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပာယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ဥပဒေအရလွှဲအပ်ခြင်းခံရသူများ၊ ဆက်ခံခွင့်ရှိသူများနှင့် တရားဝင် ကိုယ်စားလှယ်များပါ ပါဝင်သည်ဟု မှတ်ယူရမည်။) ဤသဘောတူကတိစာချုပ်ပါ ရည်ရွယ်ချက်များ ထမြောက်အောင်မြင်စေရန်အလို့ငှာ ကိုယ်စားပြုတာဝန်ယူ ဆောင်ရွက်မည့်သူ ဦးမျိုးညွန့်၊ မန်နေဂျင်းဒါရိုက်တာက အခြားတစ်ဖက်တို့သည် ဤသဘောတူကတိစာချုပ်ပါ စည်းကမ်းချက်များ နှင့်အညီ အောက်ပါအတိုင်း ပြုလုပ်ချုပ်ဆိုကြပါသည်။

### အပိုဒ်(၁) ရည်ရွယ်ချက်

၁-၁ အငှားချထားသူသည် တရားဝင်အမည်ပေါက်ပိုင်ဆိုင်သော ရန်ကုန်တိုင်း၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်းရှိ မြေတိုင်းရပ်ကွက် အမှတ်(၂/၂) မြေဧရိယာ ၃.၅၆ဧက (၁၄၄၀၆.၈၂စတုရန်းမီတာ)ရှိ မြေအား တရားဝင်ပိုင်ဆိုင်သူဖြစ်ပြီး အဆိုပါမြေကို B.O.T စနစ်ဖြင့် ငှားရမ်းမှုပြုမည်ဖြစ်ပါသည်။ (အငှားချထားသည့် မြေနှင့်စပ်လျဉ်းသည့် မြေပုံကို နောက်ဆက်တွဲ(၁)အဖြစ် ပူးတွဲဖော်ပြအပ်ပါသည်။

၁-၂ အငှားချထားခြင်းခံရသူသည် အငှားချထားသူပိုင် အငှားချထားသည့်မြေအား ငှားရမ်း၍ နိုင်ငံတကာ အဆင့်မီ တန်(၂၀၀)ဆန့် အအေးခန်းစက်ရုံတည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါးပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရန် ရည်ရွယ်ပါသည်။

## အပိုဒ်(၂) ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း

၂-၁ ဤသဘောတူကတိစာချုပ်တွင် လက်မှတ်ရေးထိုးချုပ်ဆိုကြသည့် စာချုပ်ဝင်များအနက် အငှားချထားသူသည် ငှားရမ်းသည့် မြေကိုဥပဒေနှင့်အညီ တရားဝင်ပိုင်ဆိုင်ခွင့်ရှိကြောင်းနှင့် အငှားချထားခြင်းခံရသူသည် သက်ဆိုင်ရာဥပဒေများအရ ဤသဘောတူကတိစာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်ခွင့်ရှိသော ပုဂ္ဂိုလ်ဖြစ်ပြီး ဤသဘောတူကတိစာချုပ်ကို ချုပ်ဆိုနိုင်ရန် ဥပဒေအရ လုပ်ပိုင်ခွင့်ရှိသူ၊ အခွင့်အာဏာနှင့် စီးပွားရေးအရ ငွေရေးကြေးရေး ခိုင်မာတောင့်တင်းသူများဖြစ်ကြောင်း အာမခံကြပါသည်။

## အပိုဒ်(၃) ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၃-၁ ဤသဘောတူကတိစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များအတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာ အစိုးရဌာန၊ အာဏာပိုင်အဖွဲ့အစည်းများထံမှ ရယူရန် လိုအပ်သော အတည်ပြုချက်များ၊ ခွင့်ပြုမိန့်များရရှိပြီးမှသာ လုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်ရန် သတ်မှတ်ထားပါသည်။

## အပိုဒ်(၄) ဥပဒေအရ ဆောင်ရွက်ခြင်း

၄-၁ ဤသဘောတူကတိစာချုပ်ပြုလုပ်ချုပ်ဆိုကြသူများသည် စာချုပ်ပါတာဝန်ဝတ္တရားများ၊ လုပ်ငန်းအကောင်အထည်ဖော်မှုများ၊ လုပ်ငန်းဆောင်ရွက်မှုများကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေပါ ပြဋ္ဌာန်းချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရမည်။

## အပိုဒ်(၅) ငှားရမ်းခြင်းသက်တမ်းကာလ

၅-၁ ဤသဘောတူကတိစာချုပ်ပါ ငှားရမ်းခြင်းသက်တမ်းကာလမှာ ကနဦး(၁၀)နှစ်ဖြစ်ပါသည်။

၅၂ ပထမ (၅)နှစ်သက်တမ်းကုန်ဆုံး၍ ဒုတိယအကြိမ် (၅)နှစ်သက်တမ်းအတွက် ဤစာချုပ်ချုပ်ဆိုခြင်းဖြစ်ပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
UNION OF MYANMAR
အခွန်တံဆိပ်ခေါင်း
REVENUE STAMP
၆၀ ကျပ် ငွေခြောက်ဆယ်ကျပ် K 60



၁-၂ အငှားချထားခြင်းခံရသူသည် အငှားချထားသူပိုင် အငှားချထားသည့်မြေအား ငှားရမ်း၍ နိုင်ငံတကာ အဆင့်မီ တန်(၂၀၀)ဆန့် အအေးခန်းစက်ရုံတည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါးပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရန် ရည်ရွယ်ပါသည်။

## အပိုဒ်(၂) ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း

၂-၁ ဤသဘောတူကတိစာချုပ်တွင် လက်မှတ်ရေးထိုးချုပ်ဆိုကြသည့် စာချုပ်ဝင်များအနက် အငှားချထားသူသည် ငှားရမ်းသည့် မြေကိုဥပဒေနှင့်အညီ တရားဝင်ပိုင်ဆိုင်ခွင့်ရှိကြောင်းနှင့် အငှားချထားခြင်းခံရသူသည် သက်ဆိုင်ရာဥပဒေများအရ ဤသဘောတူကတိစာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်ခွင့်ရှိသော ပုဂ္ဂိုလ်ဖြစ်ပြီး ဤသဘောတူကတိစာချုပ်ကို ချုပ်ဆိုနိုင်ရန် ဥပဒေအရ လုပ်ပိုင်ခွင့်ရှိသူ၊ အခွင့်အာဏာနှင့် စီးပွားရေးအရ ငွေရေးကြေးရေး ခိုင်မာတောင့်တင်းသူများဖြစ်ကြောင်း အာမခံကြပါသည်။

## အပိုဒ်(၃) ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၃-၁ ဤသဘောတူကတိစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များအတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာ အစိုးရဌာန၊ အာဏာပိုင်အဖွဲ့အစည်းများထံမှ ရယူရန် လိုအပ်သော အတည်ပြုချက်များ၊ ခွင့်ပြုမိန့်များရရှိပြီးမှသာ လုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်ရန် သတ်မှတ်ထားပါသည်။

## အပိုဒ်(၄) ဥပဒေအရ ဆောင်ရွက်ခြင်း

၄-၁ ဤသဘောတူကတိစာချုပ်ပြုလုပ်ချုပ်ဆိုကြသူများသည် စာချုပ်ပါတာဝန်ဝတ္တရားများ၊ လုပ်ငန်းအကောင်အထည်ဖော်မှုများ၊ လုပ်ငန်းဆောင်ရွက်မှုများကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေပါ ပြဌာန်းချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရမည်။

## အပိုဒ်(၅) ငှားရမ်းခြင်းသက်တမ်းကာလ

၅-၁ ဤသဘောတူကတိစာချုပ်ပါ ငှားရမ်းခြင်းသက်တမ်းကာလမှာ ကနဦး(၁၀)နှစ်ဖြစ်ပါသည်။

၅၂ ပထမ (၅)နှစ်သက်တမ်းကုန်ဆုံး၍ ဒုတိယအကြိမ် (၅)နှစ်သက်တမ်းအတွက် ဤစာချုပ်ချုပ်ဆိုခြင်းဖြစ်ပါသည်။

၅-၃ ငှားရမ်းခွင့်ပြုကာလ ကုန်ဆုံးပြီးသည့်အခါ နှစ်ဦးနှစ်ဘက် သဘောတူညီချက်ဖြင့် တစ်နှစ်တစ်ကြိမ် စာချုပ်ဖြင့် နောက်ထပ်(၅)နှစ်အထိ ထပ်မံတိုးမြှင့်ငှားရမ်းခွင့်ရှိစေရမည်။

၅-၄ သက်တမ်းတိုးမြှင့်လိုပါက အငှားချထားခြင်းခံရသူသည် ငှားရမ်းခြင်းသက်တမ်းမကုန်ဆုံးမီ (၃)လ ကြိုတင်၍ စာဖြင့်တင်ပြရမည်ဖြစ်ပြီး ငှားရမ်းခြင်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တဆင့်အထက်အဖွဲ့အစည်းသို့တင်ပြ၍ အတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်မှုရှိစေရမည်။

<u>အပိုဒ်(၆) စာချုပ်အကျိုးသက်ရောက်သည့်နေ့</u>

၆-၁ ဤသဘောတူကတိစာချုပ်သည် ၂၀၁၃ ခုနှစ်၊ ဧပြီလ၊ (၃)ရက်နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

<u>အပိုဒ်(၇)ငှားရမ်းခပေးချေခြင်း</u>

၇-၁ အငှားချထားခြင်းခံရသူသည် အငှားချထားသည့်မြေအား ငှားရမ်းခြင်းအတွက် နှစ်စဉ်ငှားရမ်းခ ငွေကျပ် ၇၄၆၉၇၅၀. ၂၅/-(ကျပ် ခုနစ်ဆယ့်လေးသိန်း ခြောက်သောင်းကိုးထောင်ခုနစ်ရာငါးဆယ်ကျပ်နှင့် နှစ်ဆယ့်ငါးပြားတိတိ)ကို စာချုပ် စတင်ချုပ်ဆိုငှားရမ်းသည့် ပြက္ခဒိန်နှစ်အလိုက် နှစ်စဉ် သက်ဆိုင်ရာနှစ် ပထမလ၏ ပထမ(၇)ရက်အတွင်း အငှားချထားသူသို့ ကြိုတင်ပေးချေရမည်။

၇-၂ ဤသဘောတူကတိစာချုပ်ဝင် ပုဂ္ဂိုလ်များသည် ငှားရမ်းခနှုန်းထားများကို (၅)နှစ်တစ်ကြိမ် ပြန်လည်စိစစ်သုံးသပ်နိုင်ခွင့်ရှိသည်။ ယင်းသို့ ပြန်လည်စိစစ်ရာတွင် ပြီးခဲ့သော (၅)နှစ်ကာလအတွက် နှစ်စဉ်ငှားရမ်းခ နှုန်းထား၏ (၁၅)ရာခိုင်နှုန်းထက် မပိုစေရန် သဘောတူညီကြပါသည်။

<u>အပိုဒ်(၈) အငှားချထားသူ၏ တာဝန်ဝတ္တရားများ</u>

၈-၁ အငှားချထားသူသည် အောက်ပါတာဝန်ဝတ္တရားများကို လိုက်နာဆောင်ရွက်ရမည်-

(၁) အငှားချထားသည့် မြေအတွက် မြေခွန်ကို ပေးဆောင်ရမည်။

(၂) အငှားချထားခြင်းခံရသူ၏ ဤသဘောတူကတိစာချုပ်ပါ လုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန် အတွက် လိုအပ်သည်များကို ကူညီဖြည့်ဆည်းပေးရမည်။

(၃) လိုအပ်သော ခွင့်ပြုချက်များ၊ မှတ်ပုံတင်မှုများ၊ လိုင်စင်များကို သက်ဆိုင်ရာ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ အဖွဲ့အစည်းများထံမှ ရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(၄) အငှားချထားခြင်းခံရသူက မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်လျှောက် ထားရာတွင် လိုအပ်သည်များ ကူညီဆောင်ရွက်ပေးရမည်။

(၅) အငှားချထားသည့်မြေတွင် အဆောက်အဦများကို ပိုမိုတိုးတက်ကောင်းမွန်စေရေးအတွက် လိုအပ်သော မွမ်းမံပြင်ဆင်မှုများ ပြုလုပ်နိုင်ရန် အငှားချထားခြင်းခံရသူသို့ ခွင့်ပြုပေးရမည်။

<u>အပိုဒ်(၉) အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ</u>

၉-၁ အငှားချထားခြင်းခံရသူသည် အောက်ပါတာဝန်ဝတ္တရားများကို လိုက်နာဆောင်ရွက်ရမည်-

(၁) အငှားချထားခြင်းခံရသူသည် နှစ်စဉ်ငှားရမ်းခငွေများကို ဤသဘောတူကတိစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ သတ်မှတ်ထားသည့် ကာလအတွင်း အငှားချထားသူသို့ မပျက်မကွက် ပေးချေရမည်။

(၂) အငှားချထားစဉ်ကာလအတွင်း အငှားချထားသည့် မြေပေါ်တွင် စီးပွားရေးလုပ်ငန်းများ ဆောင်ရွက်ရာ၌ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများအရ လိုအပ်သော ခွင့်ပြုမိန့်များ၊ လိုင်စင်များရယူပြီး၊ လုပ်ကိုင်ဆောင်ရွက်ရမည်။

(၃) အငှားချထားစဉ်ကာလအတွင်း အငှားချထားသည့် မြေပေါ်တွင် အအေးခန်းစက်ရုံ၊ ရေခဲစက်ရုံနှင့် ငါးပုစွန်ပြုပြင် ထုတ်လုပ်ရေးလုပ်ငန်းများ ဆောင်ရွက်နိုင်ရေးအတွက် အဆောက်အဦများ တည်ဆောက်ခြင်း၊ လျှပ်စစ်မီးနှင့် ရေရရှိရေးလုပ်ငန်းဆောင်ရွက်ခြင်း စသည်တို့ကို မိမိ၏ ကုန်ကျစရိတ်ဖြင့် တာဝန်ယူဆောင်ရွက်ရမည်။

(၄) အငှားချထားသည့် မြေပေါ်တွင် အဆိုပါလုပ်ငန်းအား ဆက်လက်လုပ်ကိုင်ရန် တစ်ဆင့်ငှားရမ်းခြင်း၊ ထပ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်း၊ ပေါင်နှံခြင်း စသည်တို့ကို လုံးဝမပြုလုပ်ရ။

(၅) ဤသဘောတူကတိစာချုပ်အား ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်ရမည်။

(၆) အငှားချထားစဉ်ကာလအတွင်း မြေခွန်မှအပ လုပ်ငန်းနှင့်သက်ဆိုင်သော အခြားအခွန်အခများကို အချိန်မှန်မှန် ပေးဆောင်ရမည်။

(၇) ဤသဘောတူကတိစာချုပ်ပါလုပ်ငန်းများကို မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်မိန့်ရရှိပြီးနောက် ဤသဘောတူကတိစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှစ၍ နှောင့်နှေးကြန့်ကြာမှုမရှိစေဘဲ ဆောလျင်စွာ ဆောင်ရွက်ရမည်။

<u>အပိုဒ်(၁၀) အာမခံထားရှိခြင်း</u>

၁၀-၁ အငှားချထားခြင်းခံရသူသည် ဤသဘောတူကတိစာချုပ်ပါလုပ်ငန်းများဆောင်ရွက်ရာတွင် လုပ်ငန်းလိုအပ်ချက်အရ လိုအပ်သောအာမခံများကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ မြန်မာ့အာမခံဥပဒေပါ ပြဋ္ဌာန်းချက်များ

**အပိုဒ်(၁၁) ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၁၁-၁ အငှားချထားခြင်းခံရသူသည် ဤသဘောတူကတိစာချုပ်ပါ ငှားရမ်းခြင်းကာလကုန်ဆုံးသည့်အခါဖြစ်စေ၊ ငှားရမ်းခြင်း ရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ ကုန်ဆုံးရပ်စဲသည့်နေ့မှ (၃)လအတွင်း အငှားချထားသည့် မြေနှင့် ယင်းမြေပေါ်ရှိ ဆောက်လုပ်ထားသော အဆောက်အဦအပါအဝင် ယင်းနှင့်ဆက်စပ်နေသော ပစ္စည်းများအားလုံး(ယင်းပစ္စည်းများတွင် တပ်ဆင်ပစ္စည်း၊ စက်ကိရိယာများပါဝင်ခြင်းမရှိစေရ)ကို အငှားချထားသူသို့ ကောင်းမွန်စွာ ပုံမှန်အသုံးပြုနိုင်သည့် အခြေအနေအတိုင်း အဖိုးစားနားမပါရှိဘဲ ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်။

**အပိုဒ်(၁၂)ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ**

၁၂-၁ အငှားချထားခြင်းခံရသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်အရ ခံစားခွင့်ရှိစေရမည်။

၁၂-၂ အငှားချထားခြင်းခံရသူသည် လုပ်ငန်းဆိုင်ရာ အခွန်အခများကို တည်ဆဲဥပဒေများပါ ပြဋ္ဌာန်းချက်များနှင့် အညီ သတ်မှတ်ထားသည့်အတိုင်း နည်းလမ်းတကျပေးဆောင်ရမည်။

**အပိုဒ်(၁၃) ဓါတ်သတ္တုအရင်းအမြစ်များ**

၁၃-၁ အငှားချထားသူသည် အငှားချထားသည့်မြေမှ ဤသဘောတူကတိစာချုပ်ပါအတိုင်း ဆောင်ရွက်ရာတွင် အငှားချထားစဉ် ကာလအတွင်း မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ အဖိုးတန်ကျောက်မျက်ရတနာများ၊ ရှေးဟောင်း ပစ္စည်းများတွေ့ရှိလျှင် ထိုပစ္စည်းများကို အငှားချထားသူက ပိုင်ဆိုင်ရမည်။

၁၃-၂ အငှားချထားသူသည် အဆိုပါပစ္စည်းများကို သက်ဆိုင်ရာ အစိုးရအဖွဲ့အစည်းသို့ တင်ပြ၍ အတည်ပြုချက်ရယူပြီး၊ မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာ တူးဖော်ရယူခွင့်ရှိစေရမည်။

**အပိုဒ်(၁၄) လုပ်ငန်းရပ်စဲပြီးဆုံးခြင်း**

၁၄-၁ ဤသဘောတူကတိစာချုပ်ကို ပြုလုပ်ချုပ်ဆိုကြသူများသည် အောက်ဖော်ပြပါ အကြောင်းချင်းရာတစ်ရပ်ရပ် ဖြစ်ပေါ်လာလျှင် လုပ်ငန်းရပ်စဲပြီးဆုံးခြင်း ဖြစ်စေရမည်။

(၁) လုပ်ငန်းတွင် ကြီးမားစွာဆက်တိုက် အရှုံးပေါ်ပေါက်နေခြင်း။

(၂) ပဋိညာဉ်စာချုပ်ဝင် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များဆောင်ရွက်ရန် ပျက်ကွက်ခြင်း။

(၃) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သော ဖြစ်ရပ်များ ပေါ်ပေါက်လာပြီး အဆိုပါ ဖြစ်ရပ်များသည် (၆)လတာ ကာလအထိကြာမြင့်ခြင်း။

(၄) လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည်ဖော်နိုင်စွမ်းမရှိခြင်း။

၁၄-၂ ဤသဘောတူကတိစာချုပ်ပါ လုပ်ငန်းကို ရပ်စဲလိုကြောင်း နှစ်ဦးနှစ်ဖက်သဘောတူဆန္ဒဖြင့် တင်ပြလာလျှင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်စေရမည်။

**အပိုဒ်(၁၅) မြေသို့ပြန်လည်ဝင်ရောက်နိုင်ခွင့်**

၁၅-၁ အငှားချထားခြင်းခံရသူက ဤစာချုပ်ပါ စည်းကမ်းချက်များကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊ ထိုသို့ ပျက်ကွက်ကြောင်း အငှားချထားသူက ချအပ်သော နို့တစ်စာပါ ကာလများအတွင်း မဆောင်ရွက်နိုင်မှု (သို့မဟုတ်) မလိုက်နာမှုကို ပြင်ဆင်ပေးရန် ပျက်ကွက်လျှင်သော် လည်းကောင်း၊ အငှားချထားသူသည် အငှားစာချုပ်နှင့် သက်ဆိုင်အကျုံးဝင်သော ပစ္စည်းတစ်ရပ်လုံး အပေါ်တွင် ငြိမ်းချမ်းအေးဆေးစွာ ပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့်ရှိရမည်။ ထိုအခါ အငှားစာချုပ်သည် ရပ်စဲ၍ ဆုံးခန်းတိုင်ရောက်ရမည်ဟူ၍ နှစ်ဦးနှစ်ဖက် သဘောတူညီကြပါသည်။ ဤသို့ စာချုပ်ရပ်စဲပြီးဆုံးခြင်း၊ မြေသို့ ပြန်လည်ဝင်ရောက်နိုင်သည့် အခွင့်အရေးများသည် ဤစာချုပ်ပါ အငှားချထားသူက အငှားချထားခြင်းခံရသူထံမှ ရရှိမည့် အခွင့်အရေးများနှင့် တောင်းဆိုပိုင်ခွင့်များကို မထိခိုက်စေရ။

**အပိုဒ်(၁၆) လူတို့မလွန်ဆန်နိုင်သော ဘေးအန္တရာယ်များ**

၁၆-၁ ဤသဘောတူကတိစာချုပ်တွင် စာချုပ်ဝင်ပုဂ္ဂိုလ်များသည် စာချုပ်ပါ တာဝန်ဝတ္တရားများကို အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် ကြိုတင်မမျှော်မှန်းနိုင်သည့် တားဆီးခြင်းမပြုနိုင်သော မလွန်ဆိုင်နိုင်ဖွယ်ရာ ဘေးအန္တရာယ် ဖြစ်ရပ်များပေါ်ပေါက်လာပါက စာချုပ်ဝင်ပုဂ္ဂိုလ်များအပေါ် တာဝန်ကျရောက်ခြင်း မရှိစေဘဲ အောက်ပါစည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(၁) စာချုပ်ဝင်နှစ်ဦးနှစ်ဖက်အနက် တစ်ဖက်ဖက်မှ စာချုပ်ပါ တာဝန်ဝတ္တရားများကို ဆောင်ရွက်ရန် (သို့တည်းမဟုတ်) ဤစာချုပ်အရ အခြားတစ်ဖက်၏ ဆောင်ရွက်မှုကို လက်ခံရန် ယာယီအားဖြင့် မစွမ်းဆောင်နိုင်သည့် အခြေအနေကို ဖြစ်ပေါ်သက်ရောက်စေသော လူတို့ မတွန်းလှန်နိုင်သည့် မလွန်ဆိုင်နိုင်ဖွယ်ရာ ဘေးအန္တရာယ်များကျရောက်ခဲ့လျှင် အဆိုပါဘေးအန္တရာယ်ကို ရင်ဆိုင်ရသည့် စာချုပ်ဝင်တစ်ဖက်ပုဂ္ဂိုလ်သည် ဘေးအန္တရာယ်ကျရောက်သည့်နေ့မှ (၁၄)ရက်အတွင်း အဆိုပါ ဘေးအန္တရာယ်နှင့်ပတ်သက်သော အသေးစိတ်အချက်အလက်များကို အခြားတစ်ဖက်သို့ စာဖြင့်အသိပေးအကြောင်းကြားရမည်။ မစွမ်းဆောင်နိုင်သော ဘေးအန္တရာယ်ကြောင့်ပေါ်လာသည့် နှောင့်နှေးကြန့်ကြာမှု များအတွက် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်စလုံးတွင် တာဝန်မရှိစေရ။ ထို့အပြင် ယင်းကာလကို စာချုပ်ပါ လုပ်ငန်းသက်တမ်းကာလတွင် ထည့်သွင်းရေတွက်ခြင်းမပြုရ။

(၂) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သော လူတို့မစွမ်းဆောင်နိုင်သည့် မလွန်ဆိုင်နိုင် ဖွယ်ရာဘေးအန္တရာယ်ဖြစ်စဉ်များဆိုသည်မှာ-ဘုရားသခင်အလိုကျဖြစ်ပေါ်လာသော ကိစ္စရပ်များ၊ အစိုးရ၏တားမြစ်ချက်များ၊ သပိတ်မှောက်မှုများ၊ စက်မှုလုပ်ငန်းချွတ်ယွင်းချက်များ၊ စစ်ဖြစ်ပွားခြင်း၊ စီးပွားရေးပိတ်ဆို့ခြင်း၊ အဓိကရုဏ်းများ၊ သူပုန်ထခြင်း၊ ကပ်ရောဂါများဖြစ်ပွားခြင်း၊ ဗုံးပေါက်ကွဲခြင်း၊ မီးလောင်ခြင်း၊ ရေလွှမ်းမိုးခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း၊ မုန်တိုင်းများကျရောက်ခြင်း၊ မိုးကြိုးပစ်ခြင်း စသည်တို့အပြင် စာချုပ်ဝင် တစ်ဦးဦး၏ ပေါ့ဆမှု၊ ပျက်ကွက်မှုကြောင့် ဖြစ်ပေါ်လာခြင်းမဟုတ်ဘဲ မည်သူမျှ တားဆီးထိန်းချုပ်၍ မရသော သဘာဝဘေးအန္တရာယ်ပေါ် ပေါက်လာသည့် ဖြစ်ရပ်များ ဖြစ်ရမည်။

(၃) လုပ်ငန်းဆောင်ရွက်နေစဉ်အတွင်း အဆိုပါမလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် လုပ်ငန်းရပ်စဲလိုလျှင် အခြားတစ်ဖက်သို့ စာဖြင့်အကြောင်းကြားရမည်။ အခြားတစ်ဖက်၏ စာဖြင့်ခွင့်ပြုချက်မရရှိဘဲ လုပ်ငန်းရပ်ဆိုင်းခြင်းမပြုရ။

(၄) အဆိုပါ မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် သဘောတူကတိစာချုပ်ကို ပြင်ဆင်ရန် ဆုံးဖြတ်ခွင့်ရှိစေရမည်။ထိုသို့ ပြုလုပ်ရာတွင် စာချုပ်ဝင်ပုဂ္ဂိုလ်များ၏ တာဝန်ဝတ္တရားများသည် သဘောတူကတိစာချုပ်ပါ စည်းကမ်းချက်များအတိုင်း လိုက်နာဆောင်ရွက်ရမည်။

## အပိုဒ်(၁၇) အငြင်းပွားမှုများဖြေရှင်းခြင်း

၁၇-၁ ဤသဘောတူကတိစာချုပ်ဝင် နှစ်ဦးနှစ်ဖက်ပုဂ္ဂိုလ်များအကြား အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်လာလျှင် ချစ်ကြည်ရင်းနှီးစွာ ညှိနှိုင်းဆွေးနွေးဖြေရှင်းရမည်။ နှစ်ဦးနှစ်ဖက် ချစ်ကြည်ရင်းနှီးစွာ ညှိနှိုင်းဆွေးနွေးခြင်းဖြင့် ပြေငြိမ်းမှုမရရှိပါက ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း အနုညာတစီရင်ဆုံးဖြတ်ခြင်းဖြင့် ဖြေရှင်းဆောင်ရွက်ရမည်။ထိုသို့ဖြေရှင်းရာတွင် နှစ်ဦးနှစ်ဖက်မှ ခုံသမာဓိလူကြီးတစ်ဦးစီကို ခန့်အပ်ပြီး အငြင်းပွားမှုကို ဖြေရှင်းရမည်။ ထိုခုံသမာဓိလူကြီးများက အငြင်းပွားမှုကို မဖြေရှင်းနိုင်မှသာ အဆိုပါခုံသမာဓိလူကြီးများက သဘောတူပြီး အမည်စာရင်းတင်သွင်းသော ဒိုင်လူကြီးသို့ လွှဲအပ်၍ ယင်းဒိုင်လူကြီး၏ အဆုံးအဖြတ်ကို နှစ်ဖက်စလုံးမှ လက်ခံရမည်။

၁၇-၂ ဤသဘောတူကတိစာချုပ်နှင့် စပ်လျဉ်း၍ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်သည် မကြေအေးနိုင်သည့် အငြင်းပွားမှုမျိုးများ ရှိပါက ခုံသမာဓိလူကြီးမှ စီရင်ဆုံးဖြတ်ရန် ကျင့်ထုံးမှာ အနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေ အမှတ် ၄/၁၉၄၄)နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတ စီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၊ ရန်ကုန်တိုင်းဒေသကြီးတွင် ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံပေးချေရပါမည်။

<u>အပိုဒ်(၁၈) စာချုပ်အားပြန်လည် ပြင်ဆင်စေ့စပ်ညှိနှိုင်းခြင်း</u>

၁၈-၁ ဤသဘောတူကတိစာချုပ်တွင် ပါရှိသည့် စည်းကမ်းချက်များသည် လုပ်ငန်းများ အမှန်တကယ် အကောင်အထည်ဖော် ဆောင်ရွက်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေ တစ်ရပ်ရပ်ကြောင့် လုပ်ငန်းများ ဆက်လက် ဆောင်ရွက်ရန် မဖြစ်နိုင်သည့်အခါ စာချုပ်ဝင် ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက် စေ့စပ်ညှိနှိုင်းပြီး၊ စာချုပ်ပါ စည်းကမ်းချက်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ရယူ၍ လိုအပ်သလို ပြန်လည် ပြင်ဆင်စေ့စပ်ညှိနှိုင်းဆောင်ရွက်ရမည်။

<u>အပိုဒ်(၁၉) လျှို့ဝှက်ချက်</u>

၁၉-၁ ဤသဘောတူကတိစာချုပ်ကို လက်မှတ်ရေးထိုးကြသည့် နှစ်ဦးနှစ်ဖက်စလုံးသည် အရေးကြီးသော စာရွက်စာတမ်းများ၊ သတင်းအချက်အလက်များကို အခြားတတိယ အဖွဲ့အစည်းသို့ လွှဲပြောင်းပေးခြင်း မပြုရ။ သို့ရာတွင် ကုမ္ပဏီ၏ အကျိုးစီးပွားအလို့ငှာ ဒါရိုက်တာအဖွဲ့၏ သဘောတူဆုံးဖြတ်ချက်ဖြင့် အခြားအဖွဲ့အစည်းသို့ လွှဲပြောင်းပေးနိုင်ခွင့်ရှိစေရမည်။

<u>အပိုဒ်(၂၀) ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ခြင်း</u>

၂၀-၁ အငှားချထားခြင်းခံရသူသည် လုပ်ငန်းဆောင်ရွက်ရမည့်နေရာဒေသ၏ ပတ်ဝန်းကျင်နေရာများအား ကောင်းမွန်စွာ ထိန်းသိမ်းကာကွယ်စောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့ပြင် လေထု၊ ရေထု၊ မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသောပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်းများအား ကာကွယ်ထိန်းချုပ်ခြင်း လုပ်ငန်းများကို ဆောင်ရွက်ရမည်။ ရေများ သန့်စင်စေနိုင်သော စက်များတပ်ဆင်ပေးခြင်း၊ လေထုညစ်ညမ်းမှုများကို မဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေး စွန့်ပစ်ပစ္စည်းများကို အန္တရာယ်ကင်းရှင်းရေးဆိုင်ရာ လိုအပ်သော အကာအကွယ်များ၊ အစီအစဉ်များ ဆောင်ရွက်ထားရှိရမည်။

<u>အပိုဒ်(၂၁)အကြောင်းကြားစာ</u>

၂၁-၁ နို့တစ်စာများ (သို့မဟုတ်) အခြားအချက်အလက် အကြောင်းကြားစာများကို မြန်မာဘာသာဖြင့် ဖြစ်စေ၊ အင်္ဂလိပ်ဘာသာဖြင့်ဖြစ်စေ ရေးသားပြီး၊ စာတိုက်မှတ်ပုံတင် ချောစာဖြင့် ဖြစ်စေ၊ တဲလက်(စ်)ဖြင့်ဖြစ်စေ၊ ဖက်(စ်)ဖြင့်ဖြစ်စေ၊ အပြည်ပြည်ဆိုင်ရာ ဆက်သွယ်ရေးနည်းစနစ်ဖြင့်ဖြစ်စေ၊ သက်ဆိုင်ရာအဖွဲ့သို့ဆက်သွယ် ဆောင်ရွက်နိုင်သည်။ ဆက်သွယ်နိုင်ရန်လိပ်စာကို ဤစာချုပ်တွင် ဖော်ပြပါရှိသော တစ်ဖက်ဖော်ပြပါ လိပ်စာအတိုင်း ဖြစ်သည်-

ပြည်ထောင်စုမြန်မာနိုင်ငံတော်
UNION OF MYANMAR
အခွန်တံဆိပ်ခေါင်း
REVENUE STAMP
၆၀ ကျပ် ငွေခြောက်ဆယ်ကျပ် K 60



(၁) "အငှားချထားသူ"အတွက်-

(၁) အမည် ဦးဇော်မျိုးထွန်း

(၂) ရာထူး ညွှန်ကြားရေးမှူး

(၃) လိပ်စာ ငါးလုပ်ငန်းဦးစီးဌာန၊ နေပြည်တော်

(၄) ဖုန်းအမှတ် ..........................................

(၅) တဲလက်(စ်)/ဖက်(စ်)အမှတ် ..........................................

(၂) "အငှားချထားခြင်းခံရသူ"အတွက်-

(၁) အမည် ဦးမျိုးညွှန့်

(၂) ရာထူး မန်နေဂျင်းဒါရိုက်တာ

(၃) လိပ်စာ ငါးလုပ်ငန်းဦးစီးဌာနဝန်း၊ အနောက်ကြို့ကုန်း၊ ဘုရင့်နောင်လမ်းမကြီး၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(၄) ဖုန်းအမှတ် ..........................................

(၅) တဲလက်(စ်)ဖက်(စ်)အမှတ် ..........................................

၂၁-၂ ယခုကဲ့သို့ စာရွက်စာတမ်းများကို ပေးပို့ဆက်သွယ်သည့်အခါများတွင် အခြားတစ်ဖက်မှ လက်ခံရရှိကြောင်း အထောက်အထားတစ်စုံတစ်ရာရရှိပြီးမှသာ ပေးပို့ခြင်းကို အတည်ပြုနိုင်သည်။ အကယ်၍ လိပ်စာ အပြောင်းအလဲရှိပါက စာဖြင့် အခြားတစ်ဖက်သို့ ရေးသားအကြောင်းကြားရမည်။

<u>အပိုဒ် (၂၂) အထွေထွေ</u>

၂၂-၁ ဤသဘောတူကတိစာချုပ်နှင့်အတူ ပူးတွဲဖော်ပြထားသည့် နောက်ဆက်တွဲများအားလုံးကို ဤစာချုပ်၏ အရေးကြီးအစိတ်အပိုင်းများအဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

၂၂-၂ ဤသဘောတူကတိစာချုပ်ပါ စည်းကမ်းချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူ ခွင့်ပြုမိန့် ရရှိပြီးမှသာ အတည်ပြုဖြစ်စေရမည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်

UNION OF MYANMAR

အခွန်တံဆိပ်ခေါင်း

REVENUE STAMP

၆၀ ကျပ် ငွေခြောက်ဆယ်ကျပ် K 60



ဤသဘောတူကတိစာချုပ်ပါ စည်းကမ်းချက်များကို စာချုပ်ဝင်နှစ်ဦးစလုံး၏ တရားဝင်ကိုယ်စားလှယ်များက မိမိတို့ကိုယ်တိုင် ဖတ်ရှုသိရှိနားလည်ကြပြီး ဖြစ်ပါ၍ အောက်ပါအသိသက်သေများရှေ့မှောက်တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့၌ အထက်ပါ ခုနှစ်၊ လ၊ ရက်နေ့တွင် အတည်ပြု လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

| "အငှားချထားသူ၏ ကိုယ်စား" | "အငှားချထားခြင်းခံရသူ၏ ကိုယ်စား" |
|---|---|
| (signature) | (signature) |
| (ညွှန်ကြားရေးမှူး) | (မန်နေဂျင်းဒါရိုက်တာ) |
| ငါးလုပ်ငန်းဦးစီးဌာန | *General Food Technology Industry Co.Ltd.* |

"အသိသက်သေများ"

| | | | |
|---|---|---|---|
| ၁။ အမည် | (signature) (stamp) | ၂။ အမည် | (signature) ဒေါ်စိုးစိုးဝင်း |
| နိုင်ငံသား | (stamp) | နိုင်ငံသား | ၁၂/ဒဂမ(နိုင်)၀၅၆၃၃၁ |
| အမှတ် | (stamp) | အမှတ် | |
| ရာထူး | | ရာထူး | Chief Accountant |
| နေရပ် | | နေရပ် | အမှတ်(၄၄၀)၊ ကမာရွတ် ... မြောက်ဒဂုံ ... [illegible] |




"B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ကို ပြင်ဆင်သည့်
ပြင်ဆင်ချက် သဘောတူစာချုပ်"

ဤ B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ကို ပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်ကို ၂၀၁၆ ခုနှစ် ၊ဇန်နဝါရီလ( ၁၂ )ရက်နေ့ တွင် နေပြည်တော်၌ အောက်ပါအတိုင်း ပြုလုပ်ချုပ်ဆိုကြသည်မှာ-

ဦးခင်မောင်မော်၊ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန ကိုယ်စားပြုသော နေပြည်တော် တွင်တည်ရှိသည့် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသ ဖွံ့ဖြိုးရေးဝန်ကြီးဌာန(နောင်တွင် "အငှားချထားသူ"ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ် အရသော်လည်းကောင်း ၊ရှေ့နောက် ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက ၎င်းအား ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်ဟု မှတ်ယူရမည်) က တစ်ဖက်

နှင့်

ဦးမျိုးညွန့် (နိုင်ငံသားစိစစ်ရေးအမှတ်-၁၂/ဗဟန(နိုင်)၀၇၃၉၂၀)(မန်နေဂျင်းဒါရိုက်တာ)၊ General Food Technology Industry Co., Ltd ကိုယ်စားပြုသော မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ အရ တရားဝင် မှတ်ပုံတင်ဖွဲ့စည်းတည်ထောင်ထားသည့် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာနဝင်း၊ အမှတ်(၂/၂)ရပ်ကွက်၊ ဘုရင့်နောင်လမ်း၊အနောက်ကြို့ကုန်း၊အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးတွင် တည်ရှိသည့် အများနှင့် မသက်ဆိုင်သော မြန်မာကုမ္ပဏီဖြစ်သည့် General Food Technology Industry Co., Ltd (နောင်တွင် "အငှားချထားခြင်းခံရသူ" ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင် ကွဲလွဲခြင်းမရှိပါက ၎င်း ၏ဆက်ခံသူများ၊ တရားဝင် ကိုယ်စားလှယ်များ နှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါ ပါဝင်သည်ဟုမှတ်ယူရမည်) က အခြားတစ်ဖက် တို့သည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များ နှင့်အညီ အောက်ပါ အတိုင်း ပြုလုပ်ချုပ်ဆိုကြပါသည်။

(က) အငှားချထားသူနှင့် အငှားချထားခြင်း ခံရသူတို့သည် အငှားချထားသူပိုင် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်း၊ မြေတိုင်းရပ်ကွက် အမှတ်(၂/၂)ပေါ်ရှိ မြေ(၃.၅၆)ဧကအား B.O.Tစနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူကတိ စာချုပ်(နောင်တွင် "မူလစာချုပ်"ဟုခေါ်ဆိုမည်)ကို (၃.၄.၂၀၁၇) ရက်နေ့တွင်လည်းကောင်း၊ (၂၀.၁၂.၂၀၁၂) ရက်နေ့တွင် ဒုတိယအကြိမ် (၅)နှစ်သက်တမ်းအတွက် B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (နောင်တွင် "B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်"ဟု ခေါ်ဆိုမည်)ကို လည်းကောင်း ချုပ်ဆိုခဲ့ကြပါသည်။

(ခ) ၂၀.၁၂.၂၀၁၂ ရက်နေ့တွင် ချုပ်ဆိုခဲ့သည့် B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူကတိစာချုပ်ပါ အောက်ပါ အပိုဒ်များပါ စာသားများကို အောက်ပါအတိုင်း အစားထိုးပြင်ဆင်ဖြည့်စွက်ရန် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူ နှစ်ဖက်စလုံး ကသဘော တူညီကြပါသည်။

၁။ B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူ ကတိစာချုပ် <u>အပိုဒ်(၁) ရည်ရွယ်ချက်၁-၁ပါ</u> "အငှားချထားခြင်းခံရသူသည်တရားဝင်အမည်ပေါက်ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ် အနောက်ကြို့ ကုန်း ရှိ မြေတိုင်းရပ်ကွက်အမှတ်(၂/၂)မြေဧရိယာ(၃.၅၆)ဧက(၁၄၄၀၆.၈၂)စတုရန်းမီတာရှိမြေ အားတရားဝင် ပိုင်ဆိုင်သူဖြစ်ပြီး အဆိုပါမြေကို B.O.Tစနစ်ဖြင့် ငှားရမ်းမှုပြု ပါသည်" ဟူသောစာသားအားပယ်ဖျက်၍ အောက်ပါစာသားဖြင့် အစားထိုးပြင် ဆင်ရမည် "အငှားချထားသူသည် တရားဝင်အမည်ပေါက်ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး အင်းစိန်မြို့နယ် အနောက်ကြို့ကုန်းရှိ မြေတိုင်းရပ်ကွက် အမှတ်(၂/၂) မြေဧရိယာ (၃.၅၆)ဧက အနက်မှမြေဧရိယာ(၂.၀၄)ဧကအား General Food Technology Industry Co.,Ltd သို့သတ်မှတ်ထားသည့်မြန်မာကျပ်ငွေဖြင့်လည်းကောင်း၊ကျန်မြေ(၁.၅၂)ဧက

အား Golden Bay Ltd သို့(၁)စတုရန်းမီတာလျှင် အမေရိကန် ဒေါ်လာ (၁၀)ဒေါ်လာနှုန်းဖြင့်လည်းကောင်း B.O.Tစနစ်ဖြင့် ငှားရမ်းမှုပြုမည်ဖြစ်ပါသည်

၂။ B.O.Tစနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူကတိစာချုပ် ပါ အပိုဒ်(၁) ရည်ရွယ် ချက်အပိုဒ်၁-၂ပါ "အငှားချထားခြင်းခံရသူသည် အငှားချထားသူပိုင် အငှားချ ထားသည့်မြေအားငှားရမ်း၍ နိုင်ငံတကာအဆင့်မီ တန်(၂၀၀) ဆန့် အအေးခန်း စက်ရုံတည်ဆောက်၍သန့်ရှင်းလတ်ဆတ်သော ငါး/ပုစွန်များ ပြုပြင်ထုတ်လုပ် ခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင် ဆောင်ရွက်ရန်ရည်ရွယ်ပါ သည်"ဟူသော စာသားအားပယ်ဖျက်၍ အောက်ပါ စာသားဖြင့်အစားထိုးပြင်ဆင်ရမည်-" "အငှားချထားခြင်းခံရသူသည် အငှားချ ထားသူပိုင် အငှားချထားသည့်မြေအားငှားရမ်း၍နိုင်ငံတကာအဆင့်မီတန်(၂၀၀)ဆန့်အအေးခန်းစက်ရုံတည်ဆောက်၍ သန့်ရှင်း လတ်ဆတ်သော ငါး/ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေတို့နှင့် အညီလုပ်ကိုင် ဆောင်ရွက် ရန်ရည်ရွယ်ပါသည်။"

၃။ B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူ ကတိစာချုပ် အပိုဒ်(၆) အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများအပိုဒ်၆-၁ပါ "ဤသဘောတူ ကတိစာချုပ်သည် ၂၀၁၂ခုနှစ်၊ဧပြီလ(၃)ရက်နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်"ဟူသော စာသားအားပယ်ဖျက်၍ အောက်ပါစာသားဖြင့် အစားထိုးပြင်ဆင်ရမည်။" ဤသဘောတူကတိ စာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိသည့်နေ့မှစ၍အကျိုးသက် ရောက်မှုရှိစေရမည်။"

၄။ ကတိစာချုပ် <u>အပိုဒ်(၇) ငှားရမ်းခပေးချေခြင်း အပိုဒ်(၇-၁)ပါ</u> "အငှားချထားခြင်းခံရသူသည် အငှားချထားသည့် မြေအား ငှားရမ်းခြင်း အတွက် နှစ်စဉ်ငှားရမ်းခငွေကျပ်၇၄၆၉၇၅ဝ.၂၅/ (ကျပ်ခုနှစ်ဆယ့်လေးသိန်း ခြောက်သောင်းကိုးထောင်ခုနှစ်ရာ့ ငါးဆယ်ကျပ်နှင့်နှစ်ဆယ့်ငါးပြား) တိတိကို စာချုပ်စတင်ချုပ်ဆို ငှားရမ်းသည့် သက်ဆိုင်ရာပြက္ခဒိန် နှစ်အလိုက်နှစ်စဉ် သက်ဆိုင်ရာနှစ်ပထမလ၏ ပထမ(၇)ရက် အတွင်း အငှားချထားသူသို့ ကြိုတင်ပေးချေရမည်" ဟူသော **စာသားအားပယ်ဖျက်၍ အောက်ပါစာသားဖြင့် အစားထိုးပြင်ဆင်ရမည်။** "အငှားချထားခြင်း ခံရသူသည် အငှားချထားသည့်မြေ(၂.ဝ၄)ဧက B.O.Tစနစ်ဖြင့် ငှားရမ်းခြင်းအတွက် နှစ်စဉ်ငှားရမ်းခငွေကျပ်၄၂၆၇၂၃၅.၂၈/ (ကျပ်လေးဆယ့်နှစ် သိန်း ခြောက်သောင်းခုနှစ်ထောင် နှစ်ရာ့သုံးဆယ်ငါးနှင့်နှစ်ဆယ့်ရှစ်ပြားတိတိ)ကိုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် ရရှိ သည့်နေ့မှစ၍(၇)ရက်အတွင်း အငှားချထားသူသို့ကြိုတင်ပေးချေရမည်။ကျန်နှစ်များတွင်သက်ဆိုင်ရာပြက္ခဒိန် နှစ်အလိုက် သက်ဆိုင်ရာနှစ်ပထမလ၏ ပထမ (၇)ရက်အတွင်း ငှားရမ်းခငွေများကို အငှားချထားသူသို့ ကြိုတင်ပေးချေရမည် " ဟူသည့်စာသားဖြင့်အစားထိုး ပြင်ဆင် ရမည်။

၅။ B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူကတိစာချုပ် <u>အပိုဒ်(၉) အငှားချထား ခြင်းခံရသူ၏ တာဝန်ဝတ္တရားများအပိုဒ် ၉-၁(၄)ပါ</u> " အငှားချထားသည မြေနှင့်ပတ်သက်၍အဆိုပြုလုပ်ငန်းအားဆက်လက်လုပ်ကိုင်ရန်တစ်ဆင့်ငှားရမ်း ခြင်း၊ ထပ်ဆင့်လွှဲပြောင်းခြင်း ၊ ရောင်းချခြင်း၊ ပေါင်နှံခြင်း၊ စသည်တို့ကို လုံးဝ မပြုလုပ်ရ "ဟူသည့် **စာသားအား ပယ်ဖျက်၍ အောက်ပါစာသားဖြင့် အစားထိုး ပြင်ဆင်ရမည်-** "အငှားချထားသည့်မြေနှင့် ပတ်သက်၍ အငှားချထားသူ၏သဘောတူညီချက်နှင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

12 JAN 2016



၏ ခွင့် ပြုချက်နှင့် အညီ မှတပါး အဆိုပြု လုပ်ငန်းအား ဆက်လက်လုပ်ကိုင်ရန် တစ်ဆင့် ငှားရမ်းခြင်း၊ ထပ်ဆင့် လွှဲပြောင်း ခြင်း၊ ရောင်းချခြင်း ၊ပေါင်နှံခြင်း စသည်တို့ကို လုံးဝမပြုလုပ်ရ" ဟူသည့် စာသားဖြင့် အစားထိုးပြင် ဆင်ရမည်။

၆။ ဤ B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ် ကိုပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူ စာချုပ်သည် ၂၀.၁၂.၂၀၁၂ ရက်နေ့ကချုပ်ဆိုသည့် B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်ဟု မှတ်ယူရမည်။

၇။ ဤပြင်ဆင်ချက်သဘောတူစာချုပ်၌ အစားထိုးပြင်ဆင်သည့် စည်းကမ်းချက်မှ လွှဲ၍ B.O.Tစနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ပါ ကျန်စည်းကမ်းချက်များသည် ပြောင်းလဲခြင်းမရှိဘဲ ဆက်လက်တည်ရှိ အကျိုးသက် ရောက်စေရမည်။

၈။ ဤပြင်ဆင်ချက် သဘောတူစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ခွင့်ပြုမိန့်ရရှိသည့်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

ဤသဘောတူစာချုပ်ပါစည်းကမ်းချက်များကို စာချုပ်ဝင်နှစ်ဖက်စလုံး၏တရားဝင်ကိုယ်စားလှယ်များက မိမိတို့ကိုယ်တိုင် ဖတ်ရှုသိရှိ နားလည်ကြပြီးဖြစ်၍ အောက်ပါ အသိသက်သေများ ရှေ့မှောက်တွင် နေပြည်တော်၌ အထက်ပါ ခုနှစ် ၊ လ၊ ရက်တွင် အတည်ပြုလက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

| "အငှားချထားသူကိုယ်စား" | "အငှားချထားခြင်းခံရသူကိုယ်စား" |
|---|---|
| လက်မှတ်- ........................ | လက်မှတ်- ........................ |
| အမည် - ဦးခင်မောင်မော် | အမည် - ဦးမျိုးညွန့် |
| ရာထူး - ညွှန်ကြားရေးမှူးချုပ် | ရာထူး - မန်နေဂျင်းဒါရိုက်တာ |

ဌာန - ငါးလုပ်ငန်းဦးစီးဌာန
လိပ်စာ - မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၊နေပြည်တော်

ဌာန - General Food Technology
လိပ်စာ - အမှတ်(၂/၂)ရပ်ကွက်၊ဘုရင့်နောင်အနောက်ကြို့ကုန်း၊ အင်းစိန်မြို့နယ်

## အသိသက်သေများ

၁။ အမည် - ....................
နိုင်ငံသားအမှတ် - ....................
ရာထူး - ....................
နေရပ်လိပ်စာ - ....................

၂။ အမည် - ....................
နိုင်ငံသားအမှတ် - Yin Myat Thu
Director
ရာထူး General Food Technology Industry Co., Ltd.
နေရပ်လိပ်စာ - ....................

C2 /DOC/General Food




# Build Operate and Transfer Agreement

## Between

## Ministry of Livestock, Fisheries and Rural Development

## And

## Golden Bay Ltd.

This agreement has been made in Nay Pyi Taw on ( 12 ) day of ~~December~~, ~~2015~~ January 2016 by and between

**U Khin Maung Maw,** Director General, Department of Fisheries represented by Ministry of Livestock, Fisheries and Rural Development located in Nay Pyi Taw (hereinafter referred to as "the lessor" – the expression shall, unless there have different meanings and text in the context" be deemed to include its successors and permitted assigns of the one part

and

**U Myo Nyunt (NRC No. - 12/BaHaNa (N) 073921) (Director) Golden Bay Ltd,** represented by Golden Bay Ltd. the public Myanmar Company, incorporated and registered officially under Myanmar Companies Act located Yangon Region, 2/2, Department of Fisheries Compound, West Gyo Gone, Insein Township (hereinafter referred to as "the lessor" – the expression shall, unless there have different meanings and text in the context" be deemed to include its successors, legal representatives and permitted assigns of the other part have executed as follows subject to the terms of this agreement.

**Article 1 – Objective**

1.1. The lessor intends to lease land 1.52 acre of West Gyo Gone Quarter, Insein Township, Yangon Region naming title and belonging to the lessor, Department of Fishery under B.O.T System.






**Article 2 – Scope of Work**

2.1. The lessee intends to rent the leased land and constructed freezing plant under the capacity of 200 ton international standard, current work and perform the business of clean and fresh fish / prawn preparing and manufacturing in accordance with the Foreign Investment Law.

**Article 3 – Warranty and Representation**

3.1. The lessor has right to title the leased land officially under the law and to sign and execute this agreement. The lessee is a person having right to perform businesses of this agreement according to the relevant law and he is a person of being able to execute this agreement. Each party represents and warrants to other that it is a legal person duly authorized under the relevant laws and has the right, power, sound financial standing and authority to enter this Agreement.

**Article 4 – Conditions Precedent**

4.1. Under the terms and conditions of this agreement, business implementation to be performed has been prescribed only after obtaining necessary approval and permit from the relevant government authorities in the Republic of the Union of Myanmar in making implementation of business.

4.2. The parties shall abide and perform the business activities and carrying out duties under this Agreement, in accordance with the existing laws of the Republic of the Union of Myanmar.






**Article 5 – Term of Agreement**

5.1 The term of the agreement is initially for (10) year as of the date of the enforcement of the agreement.

5.2. Further right of tenancy shall be had by making agreement for (2) times of the next (5) years' term. The term of this agreement may be extended for (2) times of 5 (five) years.

**Article 6 – Extension of the Term of Agreement**

6.1. Upon the expiry of the term of the lease, the term of lease may be extended for 2 (two) times of 5 (five) years by mutual agreement.

6.2. In case of wishing to extend the term, the lessee shall submit in written before of three months of the expiry of the term of the lease and it shall come into effect only after obtaining approval from the submission to Myanmar Investment Commission via Ministry of Livestock, Fisheries and Rural Development.

**Article 7 – Date of Enforcement (or) Effective Date**

7.1. This agreement shall come into effect from approval of Myanmar Investment Commission.

**Article 8 – Rental Payment**

8.1. The lessee shall pay to the lessor an Annual Rent for the 1.52 acres of total land area at the rate of USD 10 sq meter which is equal to an annual rent of USD 61512 (in words Sixty One thousand Five hundred and Twelve United States Dollar). The initial annual rent shall be paid by the lessee within (30) days after commencing of his operation. For the continuous years of the annual rent, the Lessee shall pay the annual rent within (30 days at the beginning of the Calendar year.






8.2. If the lessee fails to pay annual rental fee within (30) days from its due time, lessee shall pay interest at the rate of 4% (four percent) per annum of Annual Rental Fee as penalty to the lessor.

8.3. The parties have right to review and scrutinize the rental rate again in every five years. For so scrutinizing again, the parties agree that the rental rate shall not be in excess of 15% for the last five year's term.

**Article 9 – The responsibilities of the lessor**

9.1. The lessor shall comply with the following responsibilities –

(a) Lessor shall pay the tax for the leased land.

(b) Lessor shall provide assistance and fulfillment of the requirements for being able to make implementation of the businesses of the lessee under this agreement.

(c) Lessor shall provide assistance in the obtaining of necessary permit, registration and license from the relevant organizations of the Republic of the Union of Myanmar.

(d) Lessor shall provide assistance of the requirements in the application of relief and exemption of the tax subject to Foreign Investment Law.

(e) Lessor shall allow the lessee to be able to make necessary renovation for being more improvement and proper of the buildings of the leased land.

**Article 10 – The responsibilities of the lessee**

10.1. The lessee shall comply with the following responsibilities –

(a) The lessee shall pay annual rent under the agreement to the lessor within designated period, under this agreement.

